အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် FLP Tharkayta Co., Ltd. မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရုံးခန်းနှင့် ကုန်သိုလှောင်ရုံ တည်ဆောက်ပြုပြင်ခြင်း၊ ငှားရမ်းခြင်းနှင့် စီမံခန့်ခွဲခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br><br><br>လုပ်ငန်းအမျိုးအစား | - FLP Tharkayta Co., Ltd.<br>- FLP Tharkayta Co., Ltd.<br>- ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Fukuda and Partners Co., Ltd. (ဂျပန်) မှ ၉၉.၉၄ %<br>Mr Tetsuya Fukuda (ဂျပန်) မှ ၀.၀၆ %<br>- ရုံးခန်းနှင့် ကုန်သိုလှောင်ရုံ တည်ဆောက်ပြုပြင်ခြင်း၊ ငှားရမ်းခြင်းနှင့် စီမံခန့်ခွဲခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၅၃/၆၂၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုလက်မှု၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၄.၇၈ ဧက အနက် ၂.၂၄၈ ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအကျယ်အဝန်း<br><br>မြေ/အဆောက်အအုံ ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ဒေါ်ခင်ဌေးရီ<br>- ၂.၂၄၈ ဧက၊ ၉,၀၉၅.၆၁ စတုရန်းမီတာ<br>- ၉,၄၄၆.၂၄ စတုရန်းမီတာနှင့် ၅,၄၂၉.၈၈ စတုရန်းမီတာ ရှိ သုံးထပ်အဆောက်အဦ (၂) လုံး ဆောက်လုပ်မည်ဖြစ်ပါသည်။<br>- လစဉ် မြေငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၁၈,၁၉၁ (တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂ ဒေါ်လာ)<br>- ၂၁ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၂၁ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၆.၇၆ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၅.၀၇ သန်း အပါအဝင်) |

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | **စဉ်** **အမျိုးအမည်** **အမေရိကန်ဒေါ်လာ/ စတုရန်းမီတာ**<br>(က) Warehouse (Chilled) ၁၀<br>(ခ) Warehouse ၅<br>(ဂ) ရုံးခန်း ၁၅ |
| ၈။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** **ပြည်ပ**<br>**ဦးရေ** ၃ ဦး ၁ ဦး<br>**အမြင့်ဆုံးလစာ** အမေရိကန်ဒေါ်လာ ၄၀၀ အမေရိကန်ဒေါ်လာ ၅၀၀<br>**အနိမ့်ဆုံးလစာ** အမေရိကန်ဒေါ်လာ ၃၀၀ |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် Mr Tetsuya Fukuda သည် The Bank of Tokyo Mitsubishi UFd. Ltd. တွင် ၂၆-၁၂-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၂၆,၂၂၁.၇၅ ရှိကြောင်း တင်ပြထားပါသည်။<br>- FLP Tharkayta Co., Ltd. ၏ ကုမ္ပဏီအမည်စစ် အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)၊ မြေပိုင်ရှင် ဒေါ်ခင်ဌေးရီ အမည်ဖြင့် နှစ် ၆၀ ဂရန် သက်တမ်းရှိ မြေပိုင်ဆိုင်မှု အထောက်အထား၊ မြေပိုင်ရှင် ဒေါ်ခင်ဌေးရီ နှင့် Fukuda and Partners Co., Ltd. တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) နှင့် Loan Agreement များကို တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အမေရိကန်ဒေါ်လာ ၆၃၆,၁၇၀ တန်းဖိုးရှိ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြား |

| | | |
|---|---|---|
| | | ရင်းနှီးမြှုပ်နှံမှုဖြင့် DHL Supply Chain Myanmar Ltd. အား Supply Chain Management, Logistics and Warehousing Services လုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ခွင့်ပြုမိန့် အမှတ် ၁၂၉၀/၂၀၁၇ (၂၁-၆-၂၀၁၇)ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/အ-၀၂၆/ ၂၀၁၈(၂၁၀)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇွန်လ ၁၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် FLP Tharkayta Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ရုံးခန်းနှင့် ကုန်သိုလှောင်ရုံ တည်ဆောက်ပြုပြင်ခြင်း၊ ငှားရမ်းခြင်းနှင့် စီမံခန့်ခွဲခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ ရခိုင်နှန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် FLP Tharkayta Co., Ltd. မှ မြေကွက်အမှတ်-၅၃/၆၂၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုလက်မှု၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၇၈ ဧက အနက် ၂.၂၄၈ဧကတွင် ရုံးခန်းနှင့် ကုန်သိုလှောင်ရုံတည်ဆောက်ပြုပြင်ခြင်း၊ ငှားရမ်းခြင်း နှင့် စီမံခန့်ခွဲခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ FLP Tharkayta Co., Ltd. ၏ ကုမ္ပဏီအမည်စစ် အထောက်အထား၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း(မူကြမ်း)၊ မြေပိုင်ရှင် ဒေါ်ခင်ဒွေးရီအမည်ဖြင့် နှစ် ၆၀ ဂရန် သက်တမ်းရှိ မြေပိုင်ဆိုင်မှုအထောက်အထား၊ မြေငှားစာချုပ် (မူကြမ်း) နှင့် Loan Agreement များကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းကာလမှာ ၂၀ နှစ် ငှားရမ်းမည်ဖြစ်ပါသည်။ စုစုပေါင်းမြေဧရိယာ ၂.၂၄၈ ဧက (၉,၀၉၅.၆၁ စတုရန်းမီတာ) အား ငှားရမ်း၍ လစဉ် မြေငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၁၈,၁၉၁ ဖြစ်ပြီး ၁ လ တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၂ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၂၀ နှစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ် ကြောင်း တင်ပြထားပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၆.၇၆ သန်း ဖြစ်ပြီး ချေးငွေ အမေရိကန်ဒေါ်လာ ၅.၀၇ သန်း ပါဝင်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း ၃ ဦး နှင့် ပြည်ပဝန်ထမ်း၁ ဦး ခန့်ထားမည်ဖြစ် ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃၀၀ နှင့် အမြင့်ဆုံး

လစာမှာ အမေရိကန်ဒေါ်လာ ၄၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၅၀၀ ဖြစ်ပါသည်။

၇။ ၉,၄၄၆.၂၄ စတုရန်းမီတာနှင့် ၅,၄၂၉.၈၈ စတုရန်းမီတာရှိ သုံးထပ်အဆောက်အဦ ဂိုထောင်(၂) လုံး ဆောက်လုပ်မည်ဖြစ်ပြီး ဂိုဒေါင်ငှားရမ်းခြင်းနှင့် ရုံးခန်းငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။ ဝန်ဆောင်မှုပေးမည့်အမျိုးအမည်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | အမေရိကန်ဒေါ်လာ/ စတုရန်းမီတာ |
|---|---|---|
| (က) | Warehouse (Chilled) | ၁၀ |
| (ခ) | Warehouse | ၅ |
| (ဂ) | ရုံးခန်း | ၁၅ |

၈။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ၂၀၁၈ ခုနှစ် မေလ ၂၄ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၁/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၀၀) အရ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

၉။ ငွေကြေးအထောက်အထားအဖြစ် Mr Tetsuya Fukuda သည် The Bank of Tokyo Mitsubishi UFd. Ltd. တွင် ၂၆-၁၂-၂၀၁၇ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၂၆,၂၂၁.၇၅ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်များနှင့်Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) အမေရိကန်ဒေါ်လာ ၆၃၆,၁၇၀ တန်းဖိုးရှိ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် DHL Supply Chain Myanmar Ltd. အား Supply Chain Management, Logistics and Warehousing Services လုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ခွင့်ပြုမိန့် အမှတ် ၁၂၉၀/၂၀၁၇ (၂၁-၆-၂၀၁၇)ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် FLP Tharkayta Co., Ltd. မှ ရုံးခန်းနှင့် ကုန်သိုလှောင်ရုံ တည်ဆောက်ပြုပြင်ခြင်း၊ ငှားရမ်းခြင်းနှင့် စီမံခန့်ခွဲခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ (က)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မေ လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၅.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/အ-၀၂၆/၂၀၁၈(၁၅၂)

၁။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် FLP Tharkayta Co.,Ltd. မှ မြေကွက်အမှတ်-၅၃/၆၂၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုလက်မှု၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၇၈ ဧကအနက် ၂.၂၄၈ ဧကတွင် ရုံးခန်းနှင့် ကုန်သိုလှောင်ရုံတည်ဆောက်ပြုပြင်ခြင်း၊ ငှားရမ်းခြင်းနှင့် စီမံခန့်ခွဲခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၄.၅.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၁/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၀၀)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သာကေတမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ELP Tharkayta Co.,Ltd
လက်ခံစာတွဲ/မျှောစာတွဲ